ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

Myanmar Investment Commission

☎ ၀၁- ၆၅၈၁၂၇
🖷 ၀၁- ၆၅၈၁၃၆

စာအမှတ် ၊ မရက-၂ / ခ-၀၅၄ /၂၀၁၉ ( ၃၁၉-၈ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် အောက်တိုဘာလ ၉ ရက်

အကြောင်းအရာ။ ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Range Veterinary Company Limited မှ တိရစ္ဆာန်များ၏ ကျန်းမာရေးအထောက်အကူပြု အားဆေးနှင့် ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

ရည်ညွှန်းချက်။ Range Veterinary Company Limited ၏ ၃-၉-၂၀၁၉ ရက်စွဲပါစာ

ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Range Veterinary Company Limited မှ အမှတ်-၁၅၉၊ မြို့ဝန်ဦးအောင်သူလမ်း၊ လှိုင်သာယာစက်မှု ဇုန်-၂၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ စုစုပေါင်းမြေဧရိယာ ၁.၁၁၇ ဧက (၄,၅၁၉.၁၄၇ စတုရန်းမီတာ) တွင် တိရစ္ဆာန်များ၏ ကျန်းမာရေး အထောက်အကူပြု အားဆေး နှင့် ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စအား ၂၀၁၉ ခုနှစ် စက်တင်ဘာလ ၃၀ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၃၄/၂၀၁၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြဆွေးနွေးခဲ့ရာ အဆိုပြုလုပ်ငန်းကို လက်ခံကြောင်းနှင့် ခွင့်ပြုမိန့် လျှောက်ထားရန်အတွက် ဝန်ဆောင်ခများ လာရောက်ပေးသွင်းရန် အကြောင်းကြားပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(မျိုးမင်း၊ ညွှန်ကြားရေးမှူး)

Range Veterinary Company Limited

မိတ္တူကို

ရုံးလက်ခံ/ မျှောစာတွဲ

Myanmar Investment Commission

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့


☎ ၀၁-၆၅၈၁၂၇
🖷 ၀၁-၆၅၈၁၃၆


စာအမှတ် ၊ မရက-၂ / ခ-၀၅၄ /၂၀၁၉( ၃၂၀ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် အောက်တိုဘာလ ၂၀ ရက်

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Range Veterinary Company Limited မှ တိရစ္ဆာန်များ၏ ကျန်းမာရေးအထောက်အကူပြု အားဆေးနှင့် ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

ရည်ညွှန်းချက်။ Range Veterinary Company Limited ၏ ၃-၉-၂၀၁၉ ရက်စွဲပါစာ

၁။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Range Veterinary Company Limited မှ အမှတ်-၁၅၉၊ မြို့ဝန်ဦးအောင်သူလမ်း၊ လှိုင်သာယာစက်မှု ဇုန်-၂၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ စုစုပေါင်းမြေဧရိယာ ၁.၁၁၇ ဧက (၄,၅၁၉.၁၄၇ စတုရန်းမီတာ) တွင် တိရစ္ဆာန်များ၏ ကျန်းမာရေး အထောက်အကူပြု အားဆေး နှင့် ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းပါစာဖြင့် တင်ပြလာခြင်းကို ၂၀၁၉ ခုနှစ် စက်တင်ဘာလ ၃၀ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၃၄/၂၀၁၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အောက်ပါအတိုင်းဆုံးဖြတ်ပါသည်-

(က) လုပ်ငန်းအမျိုးအစား ပြင်ဆင်တင်ပြရန်။

(ခ) Annex-5 ကုန်ကြမ်းပစ္စည်းစာရင်း၏ Accounting Unit ထည့်သွင်းဖော်ပြရန်။

(ဂ) အခွန်ဆိုင်ရာကိစ္စရပ်များအတွက် အလယ်အလတ်အခွန်ထမ်းများဆိုင်ရာ အခွန်ရုံး (MTO-2) နှင့် ဆက်သွယ်ဆောင်ရွက်သွားရန်။

၂။ သို့ဖြစ်ပါ၍ အထက်ပါ အစည်းအဝေးဆုံးဖြတ်ချက်များအား သိရှိနိုင်ပါရန်နှင့် ဆောင်ရွက်ပြီး ပြန်လည် တင်ပြပေးနိုင်ပါရန် အကြောင်းကြားပါသည်။


(တင်အေးဟန်)
အဖွဲ့ခေါင်းဆောင်


မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

Myanmar Investment Commission

☎ ၀၁-၆၅၈၁၂၇
🖷 ၀၁-၆၅၈၁၃၆

စာအမှတ် ၊ မရက-၂ / ခ-၀၅၄ /၂၀၁၉( ၃၂၀ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် အောက်တိုဘာလ ၁၀ ရက်

အကြောင်းအရာ။ ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Range Veterinary Company Limited မှ တိရစ္ဆာန်များ၏ ကျန်းမာရေးအထောက်အကူပြု အားဆေးနှင့် ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

ရည်ညွှန်းချက်။ Range Veterinary Company Limited ၏ ၃-၉-၂၀၁၉ ရက်စွဲပါစာ

၁။ ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Range Veterinary Company Limited မှ အမှတ်-၁၅၉၊ မြို့ဝန်ဦးအောင်သူလမ်း၊ လှိုင်သာယာစက်မှု ဇုန်-၂၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ စုစုပေါင်းမြေဧရိယာ ၁.၁၁၇ ဧက (၄,၅၁၉.၁၄၇ စတုရန်းမီတာ) တွင် တိရစ္ဆာန်များ၏ ကျန်းမာရေး အထောက်အကူပြု အားဆေး နှင့် ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းပါစာဖြင့် တင်ပြလာခြင်းကို ၂၀၁၉ ခုနှစ် စက်တင်ဘာလ ၃၀ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၃၄/၂၀၁၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အောက်ပါအတိုင်းဆုံးဖြတ်ပါသည်-

(က) လုပ်ငန်းအမျိုးအစား ပြင်ဆင်တင်ပြရန်။
(ခ) Annex-5 ကုန်ကြမ်းပစ္စည်းစာရင်း၏ Accounting Unit ထည့်သွင်းဖော်ပြရန်။
(ဂ) အခွန်ဆိုင်ရာကိစ္စရပ်များအတွက် အလယ်အလတ်အခွန်ထမ်းများဆိုင်ရာ အခွန်ရုံး (MTO-2) နှင့် ဆက်သွယ်ဆောင်ရွက်သွားရန်။

၂။ သို့ဖြစ်ပါ၍ အထက်ပါ အစည်းအဝေးဆုံးဖြတ်ချက်များအား သိရှိနိုင်ပါရန်နှင့် ဆောင်ရွက်ပြီး ပြန်လည် တင်ပြပေးနိုင်ပါရန် အကြောင်းကြားပါသည်။

(တင်အေးဟန်)
အဖွဲ့ခေါင်းဆောင်

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

အထွေထွေ အရပ်ရပ် - ၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

ရက်စွဲ၊ ၂၀၁၉ ခုနှစ် အောက်တိုဘာလ ၉ ရက်

အကြောင်းအရာ။ ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဖြင့် Range Veterinary Company Limited မှ တိရစ္ဆာန်များ၏ ကျန်းမာရေး အထောက်အကူပြု အားဆေးနှင့် ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ အဆိုပြုချက်စိစစ်ရေးအဖွဲ့ (၃၄/၂၀၁၉) ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အား ကော်မရှင်သို့ ပြန်ကြားမည့်စာအား ပြုစုတင်ပြအပ်ပါသည်။

| ရေးသွင်းသူ | စိစစ်သူ |
|---|---|
| (ခင်နန္ဒာလှိုင်) | (စန္ဒာအောင်) |
| ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

ဒုတိယညွှန်ကြားရေးမှူး

၂။ [illegible]

[illegible]

၃။ [illegible]

[illegible]

၄။ ဒေါက် [illegible]

[illegible]

၅။ [illegible]

ကြောင်း၊ ဘွဲ့အား Assumption University တွင် သွားရောက်ယူရမည်ဖြစ်ကြောင်း၊ ၎င်းရမ်းခအား သုံးနှစ်စာပေးချေပြီးဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

ရခိုင်နူန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Au Mit Myanmar Co.,Lid. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပညာရေးဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအပေါ် အောက်ပါအတိုင်းဆုံးဖြတ်ပါသည်-

(က) လုပ်ငန်းအမျိုးအစားပြင်ဆင်တင်ပြရန်။

(ခ) သင်ကြားရေးနှင့်စီမံခန့်ခွဲရေးဝန်ထမ်းအင်အားစာရင်းခွဲခြားတင်ပြရန်။

(ဂ) သင်ကြားမည့် ပြည်ပဆရာများ၏ ပညာအရည်အချင်း အထောက်အထားများ တင်ပြရန်။

၇။ ရခိုင်နူန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Range Veterinary Company Limited မှ **တိရစ္ဆာန်များ၏ ကျန်းမာရေးအထောက်အကူပြု အားဆေးနှင့် ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနမှ ဒုတိယညွှန်ကြားရေးမှူး ဒေါ်ခင်ဥမ္မာအောင်က အမှာစာကိုဖတ်ကြားပြီး ကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီမှ တာဝန်ရှိသူက အဆိုပြုလုပ်ငန်းသည် ရခိုင်နူန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြစ်ပြီး တိရစ္ဆာန်များ၏ ကျန်းမာရေးအထောက်အကူပြုအားဆေးနှင့် ဆေးဝါးအမျိုးမျိုးထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို အမှတ် ၁၅၉၊ မြို့ဝန်ဦးအောင်သူလမ်း၊ လှိုင်သာယာစက်မှုဇုန်-၂၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၁၁၇ ဧကတွင် ကနဦး နှစ် ၅၀ ဖြင့် မြေငှားရမ်းဆောင်ရွက်မည်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ်ဖြင့် ရင်းနှီးမြှုပ်နှံမှုပမာဏ အမေရိကန်ဒေါ်လာ ၀.၉၃၅ သန်းဖြင့် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း၊ မလေးရှားနိုင်ငံတွင် Range Pharma Sdn. Bhdအမည်ဖြင့် လုပ်ငန်းဆောင်ရွက်လျက်ရှိပြီး မြန်မာနိုင်ငံတွင် ဆေးအမျိုးအစား ၁၂ မျိုး ထုတ်လုပ်မည်ဖြစ်ကြောင်း၊ မြန်မာနိုင်ငံတွင် ၂၀၀၀ ခုနှစ်မှစ၍ ဆေးတင်သွင်းရောင်းချခဲ့ပါကြောင်း၊ ယခုအခါ မြန်မာနိုင်ငံတွင် နည်းပညာဖြန့်ဝေရန်အတွက်ထုတ်လုပ်မှုလုပ်ငန်းစတင်လိုခြင်းဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနမှ ညွှန်ကြားရေးမှူး ဦးမျိုးမင်းက အဆိုပြုလုပ်ငန်းသည် သက်ဆိုင်ရာဝန်ကြီးဌာန၏ ခွင့်ပြုချက်နှင့်အညီ ဆောင်ရွက်ရမည့်လုပ်ငန်းအမျိုးအစားဖြစ်ပါကြောင်း၊ ယခုအဆိုပြုလုပ်ငန်းများရှိ တိုင်းဒေသကြီးဝန်ကြီးဌာနမှ သဘောထားမှတ်ချက်ပေးလိုခြင်း ရှိ-မရှိသိလိုကြောင်း သို့မဟုတ် ယခုကဲ့သို့ လာရောက်ဆွေးနွေးလိုခြင်း ရှိ-မရှိ

သိလိုကြောင်း၊ လုပ်ငန်းများကို ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအမျိုးအစား၊ တန်ဖိုးများနှင့်သတ်မှတ်ခြင်းကြောင့် ထူးခြားသောလုပ်ငန်းများဖြစ်ပါက လိုအပ်လျှင် သဘောထားမှတ်ချက် ပေးလိုခြင်း ရှိ-မရှိ သိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

မွေးမြူရေးဦးစီးဌာနမှ တာဝန်ရှိသူက ယခုအဆိုပြုလုပ်ငန်းသည် အစာနှင့်ရောစပ်၍ အသုံးပြုရသည့် ဆေး ၃ မျိုးနှင့် ပဋိဇီဝဆေး ၉ မျိုးထုတ်လုပ်မည်ဖြစ်ကြောင်း၊ တင်ပြလာသည့် လုပ်ငန်းအမျိုးအစားနှင့် ကိုက်ညီမှုရှိပါကြောင်း၊ Production of Various kinds of veterinary drugs and pharmaceutical ဟု ပြန်လည်ပြင်ဆင်ဖော်ပြသင့်ပါကြောင်း၊ အမျိုးသားဆေးဝါးဥပဒေအရ တိရစ္ဆာန်များတွင် အသုံးပြုသော ဆေးဝါးများကို drugs ဟု သုံးပါကြောင်း၊ ယခုကဲ့သို့ လုပ်ငန်းများ တင်ပြလာပါက မိမိတို့ဌာနသို့ သဘောထားမှတ်ချက်တောင်းစေလိုကြောင်း ဆွေးနွေးပါသည်။

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ဒုတိယညွှန်ကြားရေးမှူး ဦးအောင်သူကျော်က အဆိုပြုလုပ်ငန်းသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းပြုလုပ်ပြီး စီမံခန့်ခွဲမှုအစီအစဉ်များ စနစ်တကျရေးဆွဲဆောင်ရွက်ရန် လိုအပ်သောလုပ်ငန်းအမျိုးအစားဖြစ်ကာ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း နောက်ဆက်တွဲဇယား-၇၁၊ ၇၂၊ ၇၃ တို့အရ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ပြုလုပ်ရန်လိုအပ်သည့် လုပ်ငန်းအမျိုးအစားဖြစ်သည့်အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းပြုလုပ်ပြီး စီမံခန့်ခွဲမှုအစီအစဉ်များ စနစ်တကျရေးဆွဲဆောင်ရွက်ရမည်ဖြစ်ကြောင်း၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့မှလည်း EIA၊ EMP ရေးဆွဲဆောင်ရွက်ရန် သဘောထားမှတ်ချက်ပြန်ကြားပြီးဖြစ်သည်ဟုစစ်ဆေးတွေ့ရှိရကြောင်း၊ ထိုသို့ရေးဆွဲဆောင်ရွက်ရာတွင် စီမံကိန်းအဆိုပြုသူသည် ဦးစွာ EIA ရေးဆွဲဆောင်ရွက်မည့် တတိယပုဂ္ဂိုလ်(သို့မဟုတ်) အဖွဲ့အစည်းကို ရွေးချယ်၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏အတည်ပြုချက်ကို ရယူရမည်ဖြစ်ပြီး နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်းအစီရင်ခံစာနှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို ရေးဆွဲပြီးပါက ဝန်ကြီးဌာန၏ အတည်ပြုချက်ထပ်မံရယူ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင် ခံစာ(EIA) ကို ရေးဆွဲဆောင်ရွက်ရမည်ဖြစ်ကြောင်း၊ လိုက်နာဆောင်ရွက်ရန်အကြံပြုချက်အနေဖြင့် ကော်မရှင်အစည်းအဝေးသို့တင်ပြ၍ အတည်ပြုချက်ရယူရာတွင် အဆိုပြုလုပ်ငန်းအနေဖြင့် Scoping Report အထိ ပြီးစီးအောင်ဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ပြီး သတ်မှတ်ထားသော ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်း၊ လုပ်ထုံး/လုပ်နည်းများ၊ စံချိန်စံညွှန်းများနှင့်အညီ စွန့်ပစ်ပစ္စည်း အစိုင်အခဲ၊ အရည်၊ အငွေ့အပါအဝင် အသုံးပြုသွားမည့် အရင်းအမြစ်များအတွက် လိုက်နာဆောင်ရွက်သွားမည့် ပတ်ဝန်းကျင်ထိခိုက်မှုလျော့နည်းရေး လုပ်ငန်းအစီအမံများနှင့် စီမံခန့်ခွဲမှုအစီအစဉ်များကို ရှင်းလင်းတင်ပြနိုင်ရေးစီစဉ်ဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနမှ ဒေါ်မေစိုးမွန်က စက်ပစ္စည်းများတပ်ဆင်ပြီးပါက စက်မှုဥပဒေနှင့်အညီ စက်မှုလုပ်ငန်းမှတ်ပုံတင် ရယူဆောင်ရွက်သွားရန်နှင့်လျှပ်စစ်လိုင်းများနှင့်စပ်လျဉ်း၍ လျှပ်စစ်အန္တရာယ်ကင်းရှင်းကြောင်း စစ်ဆေးခံဆောင်ရွက်သွားရန်လိုအပ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုန်သွယ်ရေးဦးစီးဌာနမှ ညွှန်ကြားရေးမှူး ဦးဇေကြိုင်က ပြည်ပမှတင်သွင်းမည့်စက်ပစ္စည်းများကို HS Code များနှင့်အညီ တင်သွင်းရန်နှင့် သွင်းကုန်လိုင်စင် လျှောက်ထားရန်လိုကြောင်း၊ တိရစ္ဆာန်အထောက်အကူပြု ဆေးဝါးများကို တင်သွင်းသည့်အခါ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ ထောက်ခံချက်ဖြင့် သွင်းကုန်လိုင်စင် လျှောက်ထားရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပြည်တွင်းအခွန်များဦးစီးဌာနမှ ညွှန်ကြားရေးမှူး ဦးဌါန်စိန်ဂီက ကုမ္ပဏီအနေဖြင့်မည်သည့်အခွန်ရုံးနှင့်မျှ ဆက်သွယ်ဆောင်ရွက်ထားခြင်းမရှိသေးကြောင်း၊ နိုင်ငံခြားကုမ္ပဏီဖြစ်သည့်အတွက် အလယ်အလတ်အခွန်ထမ်းများရုံး-၂ နှင့် ဆက်သွယ်ဆောင်ရွက်ရန်လိုကြောင်း၊ မြေငှားရမ်းခြင်းနှင့်စပ်လျဉ်း၍ လှိုင်သာယာစက်မှုဇုန်ရှိ မြေ ၁.၁၁၇ ဧကအား ငှားရမ်းထားသည်ကို တွေ့ရကြောင်း၊ ငှားရမ်းခအပေါ် မြေငှားစာချုပ်ချုပ်ဆိုပြီးသည့်အခါ မြေပိုင်ရှင်မှ ဝင်ငွေခွန် ပေးဆောင်ရမည်ဖြစ်ကြောင်း၊ တရားဝင်စာချုပ်ချုပ်ဆိုသည့်အပေါ် ကျသင့်သည့် တံဆိပ်ခေါင်းခွန်နှင့် ကုန်သွယ်လုပ်ငန်းခွန်ကို ငှားရမ်းသူမှပေးဆောင်ရမည်ဖြစ်ကြောင်း၊ ၎င်းအခွန်ဆိုင်ရာကိစ္စများ ဆောင်ရွက်ပြီးစီးမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခြင်းသာ ဥပဒေနှင့်အညီ ဆောင်ရွက်ခြင်း ဖြစ်မည်ဖြစ်ကြောင်း၊ တံဆိပ်ခေါင်းခွန်ကို စာချုပ်မချုပ်ဆိုမီနှင့် စာချုပ်ချုပ်ဆိုပြီးသည့် အချိန်တွင်ထမ်းဆောင်ရမည်ဟုပါရှိကြောင်း ဆွေးနွေးပြောကြားပါသည်။

အကောက်ခွန်ဦးစီးဌာနမှ လက်ထောက်ညွှန်ကြားရေးမှူး ဦးမြင့်နိုင်ဌေးက အဆိုပြုလုပ်ငန်းမှ တင်သွင်းမည့်ပစ္စည်းများစာရင်းတွင် ပါဝင်သည့် tanks များကို မည်သည့်အတွက်ကြောင့် တင်သွင်းသည်ကို သိလိုကြောင်း၊ လိုင်စင်မလိုသည့် ပစ္စည်းအမျိုးအစားများများပြားပါကြောင်း၊ အချို့ဆေးဝါးကုန်ကြမ်းများကို တင်သွင်းသည့်အခါ သက်ဆိုင်ရာဌာနမ ၄ထောက်ခံချက်ရယူရန် လိုအပ်ပါကြောင်း၊ ဆိပ်ကမ်းသို့ရောက်ရှိလာသည့်ပစ္စည်းများကို နမူနာထုတ်ယူခွင့် တင်ပြရပါကြောင်း၊ နမူနာထုတ်ယူ၍ သက်ဆိုင်ရာဝန်ကြီးဌာနသို့ တင်ပြရပါကြောင်း၊ သက်ဆိုင်ရာဝန်ကြီးဌာနမှ သဘောတူခွင့်ပြုမှသာ ၎င်းပစ္စည်းကို ထုတ်ယူခွင့်ပြုပါကြောင်း၊သက်ဆိုင်ရာဌာနမှ သဘောမတူပါက တင်ပို့လာသည့် နိုင်ငံသို့ ပြန်လည်ပေးပို့စေမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

မြို့ရွာနှင့်အိမ်ရာဖွံ့ဖြိုးရေးရေးဦးစီးဌာနမှ ဦးရဲစစ်မင်းက အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မြေနေရာသည် ဒေါ်စမ်းကြည်နှင့် ဒေါ်အေးမေ အမည်ဖြင့် ၁၉၉၅ ခုနှစ်မှစတင်ကာ နှစ် ၆၀ ဂရန် ထုတ်ပေးထားပါကြောင်း၊ ဂရန်သက်တမ်းမှာ ၂၀၅၅ ခုနှစ်တွင် ကုန်ဆုံးမည်ဖြစ်ကြောင်း၊ ယခုပြန်လည် ငှားရမ်းသည့်အခါ ဂရန်သက်တမ်းကို သတိပြုစေလိုကြောင်း၊ တိရစ္ဆာန်အားဆေးထုတ်လုပ်မည့် လုပ်ငန်းအနီးပတ်ဝန်းကျင်တွင် မည်သည့်စက်ရုံများရှိသည်ကို သိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

အလုပ်သမားညွှန်ကြားရေးဦးစီးဌာနမှ လက်ထောက်ညွှန်ကြားရေးမှူး ဒေါ်တိုးတိုးချစ်က အလုပ်သမား ၁၈ ဦးခန့်ထားမည်ဟု ဖော်ပြထားပါကြောင်း၊ အလုပ်ခန့်ထားပြီး ရက်ပေါင်း ၃၀ အတွင်းအလုပ်ခန့်ထားခြင်းဆိုင်ရာ သဘောတူစာချုပ်ချုပ်ဆိုပေးရန်လိုကြောင်း၊ သက်ဆိုင်ရာမြို့နယ် တွင် လူမှုဖူလုံရေးထည့်ဝင်ကြေး ထည့်ဝင်ရမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနမှ ဒုတိယညွှန်ကြားရေးမှူးချုပ် ဒေါ်တင်အေးဟန်က အလုပ်သမားခန့်ထားခြင်းဆိုင်ရာ အစီအစဉ်များကိုတင်ပြပေးစေလိုကြောင်း၊ ကနဦးတစ်နှစ်အတွက် တင်သွင်းမည့်ကုန်ကြမ်းပမာဏများပြားနေကြောင်း၊ ၎င်းကို အသုံးပြု၍ အကုန်ပြန်လည် ထုတ်လုပ်မည်ကိုသိလိုကြောင်း၊ ကုန်ကြမ်းများနှင့် ထုတ်လုပ်မည့်ကုန်ချောများ ကိုက်ညီမှုရှိ-မရှိ သိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် တွဲဖက် အတွင်းရေးမှူး ဒေါ်မြသူဇာက Annex 5 တွင်ပါဝင်သော ကုန်ကြမ်းပစ္စည်းများ၏ Accounting Unit ကို တိကျစွာဖော်ပြပေးစေလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုမ္ပဏီမှ တာဝန်ရှိသူက အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်နေရာ ပတ်ဝန်းကျင်တွင် စက်ရုံအသစ်စတင်တည်ဆောက်လျက်ရှိပါကြောင်း၊ ထုတ်လုပ်မည့် ပစ္စည်းများတွင် ပစ္စည်းတစ်ခုကို ထုတ်လုပ်ရန် ရောစပ်ရသည့်ပစ္စည်းများများပြားပါကြောင်း၊ ထို့ကြောင့် ကုန်ကြမ်းပစ္စည်းတင်သွင်းမှုများပြားနေခြင်း ဖြစ်ပါကြောင်းဆွေးနွေးပြောကြားပါသည်။

ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Range Veterinary Company Limited မှ တိရစ္ဆာန်များ၏ ကျန်းမာရေးအထောက်အကူပြု အားဆေးနှင့် ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာတင်ပြလာခြင်းကိုစွနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်းဆုံးဖြတ်ပါသည်-

(က) လုပ်ငန်းအမျိုးအစားပြင်ဆင်တင်ပြရန်။

(ခ) Annex-5 ကုန်ကြမ်းပစ္စည်းစာရင်း၏ Accounting Unit ထည့်သွင်းဖော်ပြရန်။

| ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|
| (ဃ) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် IOT Myanmar Co., Ltd မှ Frequency လှိုင်းအသုံးပြု၍ Internet နည်းပညာဖြင့် Data အချက်အလက်များကောက်ယူခြင်းနှင့်ပြန်လည် အသုံးပြုခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စနှင့် ပတ်သက်၍ အောက်ပါအတိုင်းဆုံးဖြတ်ပါသည်-<br>(၁) မြေငှားစာချုပ်ပြင်ဆင်တင်ပြရန်။<br>(၂) တင်သွင်းမည့်စက်ပစ္စည်းစာရင်းအသေးစိတ် ရေးဆွဲတင်ပြရန်။<br>(၃) Interpolation ကုမ္ပဏီ၏ Profile တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့<br>IOT Myanmar Co., Ltd |
| (င) ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Au Mit Myanmar Co.,Ltd. မှ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ပညာရေး ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်း ကိစ္စအပေါ် အောက်ပါအတိုင်းဆုံးဖြတ်ပါသည်-<br>(၁) လုပ်ငန်းအမျိုးအစားပြင်ဆင်တင်ပြရန်။<br>(၂) သင်ကြားရေးနှင့်စီမံခန့်ခွဲရေး ဝန်ထမ်းအင်အားစာရင်းခွဲခြားတင်ပြရန်။<br>(၃) သင်ကြားမည့် ပြည်ပဆရာများ၏ ပညာအရည်အချင်း အထောက်အထားများ တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့<br>Au Mit Myanmar Co.,Ltd. |
| (စ) ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Range Veterinary Company Limited မှ တိရစ္ဆာန်များ၏ ကျန်းမာရေးအထောက်အကူပြု အားဆေးနှင့် ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာတင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်းဆုံးဖြတ်ပါသည်-<br>(၁) လုပ်ငန်းအမျိုးအစားပြင်ဆင်တင်ပြရန်။<br>(၂) Annex-5 ကုန်ကြမ်းပစ္စည်းစာရင်း၏ Accounting Unit ထည့်သွင်းဖော်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့<br>Range Veterinary Company Limited |

Myanmar Investment Commission

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၈၁၂၇
🖶 ၀၁-၆၅၈၁၃၆

စာအမှတ် ၊ မရက-၂ / ခ-၀၅၄ /၂၀၁၉(            )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် အောက်တိုဘာလ      ရက်

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Range Veterinary Company Limited မှ တိရစ္ဆာန်များ၏ ကျန်းမာရေးအထောက်အကူပြု အားဆေးနှင့် ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

ရည်ညွှန်းချက်။ Range Veterinary Company Limited ၏ ၃-၉-၂၀၁၉ ရက်စွဲပါစာ

၁။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Range Veterinary Company Limited မှ အမှတ်-၁၅၉၊ မြို့ဝန်ဦးအောင်သူလမ်း၊ လှိုင်သာယာစက်မှု ဇုန်-၂၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ စုစုပေါင်းမြေဧရိယာ ၁.၁၁၇ ဧက (၄,၅၁၉.၁၄၇ စတုရန်းမီတာ) တွင် တိရစ္ဆာန်များ၏ ကျန်းမာရေး အထောက်အကူပြု အားဆေး နှင့် ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းပါစာဖြင့် တင်ပြလာခြင်းကို ၂၀၁၉ ခုနှစ် စက်တင်ဘာလ ၃၀ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၃၄/၂၀၁၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အောက်ပါအတိုင်းဆုံးဖြတ်ပါသည်-

(က) လုပ်ငန်းအမျိုးအစား ပြင်ဆင်တင်ပြရန်။

( ခ) Annes-5 ကုန်ကြမ်းပစ္စည်းစာရင်း၏ Accounting Unit ထည့်သွင်းဖော်ပြရန်။

၂။ သို့ဖြစ်ပါ၍ အထက်ပါ အစည်းအဝေးဆုံးဖြတ်ချက်များအား သိရှိနိုင်ပါရန်နှင့် ဆောင်ရွက်ပြီး ပြန်လည် တင်ပြပေးနိုင်ပါရန် အကြောင်းကြားပါသည်။

(တင်အေးဟန်)
အဖွဲ့ခေါင်းဆောင်

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

အထွေထွေ အရပ်ရပ် - ၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်)

ရက်စွဲ၊ ၂၀၁၉ ခုနှစ် အောက်တိုဘာလ ၉ ရက်

အကြောင်းအရာ။ ရခိုင်ပြည်နယ်ပြည်သူ့ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဖြင့် Range Veterinary Company Limited မှ တိရစ္ဆာန်များ၏ ကျန်းမာရေး အထောက်အကူပြု အားဆေးနှင့် ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ အဆိုပြုချက်စိစစ်ရေးအဖွဲ့ (၃၄/၂၀၁၉) ကြိမ်မြောက် အစည်းအဝေးမှ လက်ခံကြောင်းနှင့် ဝန်ဆောင်ခပေးသွင်းရန်အတွက် ကုမ္ပဏီသို့ အကြောင်းကြားမည့်စာအား ပြုစုတင်ပြအပ်ပါသည်။

| ရေးသွင်းသူ | စိစစ်သူ |
| --- | --- |
| (ခင်နန္ဒာလှိုင်) | (စန္ဒာအောင်) |
| ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

ဒုတိယညွှန်ကြားရေးမှူး

၂။ ကုမ္ပဏီသို့ အကြောင်းကြားစာကို တင်ပြပါသည်။

(ဖိုးမိုးထွေး)

ညွှန်ကြားရေးမှူး

၃။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☏ ၀၁-၆၅၈၁၂၇
🖷 ၀၁-၆၅၈၁၃၆

စာအမှတ်၊ မရက- ၂/ခ-၀၅၄/၂၀၁၉( ၂၈၅ )
ရက်စွဲ၊ ၂၀၁၉ ခုနှစ် စက်တင်ဘာလ ၂၆ ရက်

အကြောင်းအရာ။ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ သဘောထားမှတ်ချက် ပြန်ကြားလာခြင်းကိစ္စ

ရည်ညွှန်းချက်။ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၏ (၁၃-၉-၂၀၁၉) ရက်နေ့ ရက်စွဲပါ စာအမှတ်၊ ၀၀၁/MIC(OSS)/၀၁(၆၅/၁၉)

၁။ Range Veterinary Company Limited သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန်-၂၊ မြို့ဝန် ဦးအောင်သူလမ်း၊ အမှတ်-၁၅၉၊၆၇၊ စုစုပေါင်း မြေဧရိယာ ၁.၁၁၇ဧက (၄၅၂၀.၃၇၄၃ စတုရန်းမီတာ) မြေပေါ်တွင် တိရိစ္ဆာန်များ၏ ကျန်းမာရေးအထောက်အကူပြု အားဆေးနှင့် ဆေးဝါးအမျိုးမျိုးထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာနသို့ သဘောထား မှတ်ချက်တောင်းခံခဲ့ပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ရည်ညွှန်းပါ စာဖြင့် အောက်ပါအချက်များ လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း သဘောထား ပြန်ကြားလာပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ ၂% ကို အသုံးပြုခြင်း အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၄၉)၊ (၆၃) နှင့် အညီဆောင်ရွက်ရန်။

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၅၊ ၄၆ တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းလုပ်ငန်း (Environmental Impact Assessment-EIA) မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယ ပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက် ရယူရန်။

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့် လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်း ရေးဝန်ကြီးဌာနသို့ တင်ပြ အတည်ပြုချက်ရယူရန်။

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါ အချက်များ အပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်များနှင့်အညီ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း အစီရင်ခံစာ (EIA) ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ ရေးဆွဲ တင်ပြရန်။

(စ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း ဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါ အတိုင်း အကောင်အထည် ဖော်ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန် နှင့် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့် ပုံစံများဖြည့်စွက်၍ တစ်ပါတည်း တင်ပြရန်။

၃။ သို့ဖြစ်ပါ၍ အထက်အပိုဒ်(၂)ပါ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၏သဘောထားမှတ်ချက်အား သိရှိနိုင်ပါရန်နှင့် ဆောင်ရွက်မည့် အစီအစဉ် အား သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တိုက်ရိုက်တင်ပြပြီး ကော်မရှင်အား မိတ္တူပေးပို့ပါရန် အကြောင်းကြားပါသည်။

(တင်အေးဟန်)
အဖွဲ့ခေါင်းဆောင်

Range Veterinary Company Limited
မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

MIC ၁၈၁၉ ၃၅၂

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁( ၆၅/၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ စက်တင်ဘာလ ၁၃ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Range Veterinary Company Limited မှ တိရစ္ဆာန်များ၏ ကျန်းမာရေးအထောက်အကူပြုအားဆေးနှင့် ဆေးဝါးအမျိုးမျိုးထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၉-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ အ-၀၄၈/၂၀၁၉ (၂၆၈)

၁။ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Range Veterinary Company Limited မှ အမှတ်- ၁၅၉၊ ဖ၇၊ မြို့ဝန် ဦးအောင်သူလမ်း၊ လှိုင်သာယာစက်မှုဇုန်-၂၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်းမြေဧရိယာ ၁.၁၁၇ ဧက (၄,၅၂၀.၃၄ စတုရန်းမီတာ)တွင် တိရစ္ဆာန်များ၏ ကျန်းမာရေးအထောက်အကူပြု အားဆေးနှင့် ဆေးဝါးအမျိုးမျိုးထုတ်လုပ်ခြင်းနှင့်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကိုလေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှု ကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၂) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား မြေ (၄၅၂၀.၃၄၃ စတုရန်းမီတာ) တွင် တိရစ္ဆာန်များ၏ ကျန်းမာရေးအထောက်အကူပြု အားဆေးနှင့် ဆေးဝါးအမျိုးမျိုးထုတ်လုပ်ခြင်းနှင့်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းအတွက် အဆောက်အဦအား လိုအပ်သည့် ပြင်ဆင်မွမ်းမံမှုများ ပြုလုပ်ကာ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် Amoxicillin Water Soluble Powder 10,000 kg, Amoxicillin+ Colistin Water Soluble Powder 5000 kg, Colistin Water Soluble Powder 5000 kg, Quinocetone Premix 20,000 kg, Noshiheptide Premix 20000 kg, Ractopamine Premix 4,000, Tilmicosin Oral Solution 10,000 L, Ciprofloxacin Oral Solution 5000 L, Toltrazuril Oral Solution 10,000, Trimethoprim+ Sulphamethoxazole Oral Solution 5000 L, Enrofloxacin Oral Solution 10,000 L, E+Se;enium Oral Solution 2,000 L ထုတ်လုပ်မည်ဖြစ်ပြီး ဈေးကွက်အပေါ်မူ

တည်၍ ထုတ်လုပ်မှုအား တိုးမြှင့်သွားမည်ဖြစ်ကာ ထုတ်လုပ်မှု၏ ၃၀% အားပြည်ပနှင့် ၇၀% အား ပြည်တွင်းသို့ ရောင်းချသွားမည် ဖြစ်ကြောင်း၊

(ဃ) ဝန်ထမ်းများသက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်း ထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ် ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Range Veterinary Company Limited မှ တိရစ္ဆာန်များ၏ ကျန်းမာရေး အထောက်အကူပြု အားဆေးနှင့် ဆေးဝါးအမျိုးမျိုးထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ လုပ်ငန်းသုံးယာဉ်/ ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့် ရေထု ညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိမြေထု၊ ရေထုနှင့် လေထု ညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းလည်ပတ်ရာတွင် လိုအပ်သည့် ရေအားစနစ်တကျ ထုတ်ယူသုံးစွဲမှုမရှိခြင်းကြောင့် မြေအောက်ရေ အရည်အသွေးနှင့် မျက်နှာပြင်နိမ့်ကျခြင်း၊

(င) တိရစ္ဆာန်များ၏ ကျန်းမာရေး အထောက်အကူပြု အားဆေးနှင့် ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ရာတွင် စက်ရုံလည်ပတ်ခြင်းနှင့်ကြောင့် ထွက်ရှိလာမည့် ဆူညံသံနှင့် အမှုန်၊ အခိုးအငွေ့များ၊ အသုံးပြုသည့် ဓါတုပစ္စည်းများ၊ ဆေးဝါးများရောစပ်ခြင်း၊ ကုန်ကြမ်း/ကုန်ချောများ သိုလှောင်ခြင်း၊ ထုတ်ပိုးခြင်း၊ သယ်ယူပို့ဆောင်ခြင်းတို့ကြောင့် ထွက်ပေါ်လာမည့် အနံ့များ၊ စက်ရုံလည်ပတ်ရာတွင် လုပ်ငန်းအဆင့်ဆင့်မှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း၊ စွန့်ပစ် အရည်များကြောင့် စက်ရုံအလုပ်သမားများ အပါအဝင် ဒေသခံပြည်သူလူထု၏ ကျန်းမာရေးနှင့် ပတ်ဝန်းကျင် ထိခိုက်နိုင်ခြင်းစသည့် ပတ်ဝန်းကျင် ဆိုင်ရာ ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Range Veterinary Company Limited မှ တိရစ္ဆာန်များ၏ ကျန်းမာရေး အထောက်အကူပြု အားဆေးနှင့် ဆေးဝါးအမျိုးမျိုးထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသား တင်အမြတ်ငွေ၏ (၂%) ကိုအသုံးပြုခြင်း အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၅၊ ၄၆ တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက် ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၇ မှ အပိုဒ် ၅၄ ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက် ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါ အချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေး

မည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများ ဖြည့်စွက်၍ တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၈၁၂၇

🖷 ၀၁- ၆၅၈၁၃၆

စာအမှတ်၊ မရက-၂/ ခ-၀၅၄ /၂၀၁၉ ( ၅၀၄ )

ရက်စွဲ ၊၂၀၁၉ ခုနှစ် အောက်တိုဘာလ ၇ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး

စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ Range Veterinary Company Limited ၏ ၃-၉-၂၀၁၉ ရက်စွဲပါစာ

၁။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Range Veterinary Company Limited တည်ထောင်ပြီး အမှတ်-၁၅၉၊ မြို့ဝန်ဦးအောင်သူလမ်း၊ လှိုင်သာယာစက်မှုဇုန်-၂၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်းမြေဧရိယာ ၁.၁၁၇ ဧကတွင် တိရစ္ဆာန်များ၏ ကျန်းမာရေးအထောက်အကူပြု အားဆေးနှင့် ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရည်ညွှန်းပါစာဖြင့် အဆိုပြုတင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၆၁ အရ ကော်မရှင်သည် အဆိုပြုလျှောက်ထားလွှာကို စိစစ်ရာတွင် လိုအပ်ပါက အစိုးရဌာန၊ အဖွဲ့အစည်းများနှင့် ဆွေးနွေးတိုင်ပင်နိုင်သည်ဟု ဖော်ပြ ပါရှိပါသည်။

၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၄၉ အရ အဆိုပြုလွှာအား လက်ခံသည့်နေ့မှ ရက်ပေါင်း ၆၀ အတွင်း ခွင့်ပြုမိန့် ထုတ်ပေးရမည်ဖြစ်၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား ၂၀၁၉ ခုနှစ် အောက်တိုဘာလ ၁၅ ရက်နေ့ နောက်ဆုံးထား၍ ပြန်ကြားပေးနိုင်ရန်ဖြစ်ပါသည်။ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန အနေဖြင့် အချိန်မီ မပြန်ကြားနိုင်ပါက ဖက်စ်၊ ဖုန်းတို့ဖြင့်လည်း အကြောင်းပြန်ကြားပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၄။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ဒေါ်ခင်အေးခိုင် (ဖုန်းနံပါတ်- ၀၉၇၆၄၃၅၃၄၄၀) သို့ ဆက်သွယ် ဆောင်ရွက်နိုင်ပါရန် အဆိုပြုလျှောက်ထားလွှာ တစ်စုံအား ပူးတွဲပေးပို့အပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(သန့်စင်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန

Range Veterinary Company Limited

ရုံးလက်ခံ / မျှောစာတွဲ

အထွေထွေ အရပ်ရပ် - ၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်)

ဒု-ညွှန်ချုပ်(၁)ရုံးစာ
စာအမှတ် ၀၁၅
ရက်စွဲ 1.10.19
အချိန်

ရက်စွဲ၊ ၂၀၁၉ ခုနှစ် စက်တင်ဘာလ ၃၀ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Range Veterinary Company Limited မှ တိရစ္ဆာန် များ၏ ကျန်းမာရေးအထောက်အကူပြု အားဆေးနှင့် ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုလွှာ တင်ပြလာခြင်းအပေါ် စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီး ဌာနသို့ သဘောထားမှတ်ချက် တောင်းခံသည့်စာအား ပြုစုတင်ပြအပ်ပါသည်။

| ရေးသွင်းသူ | စိစစ်သူ |
|---|---|
| (ခင်နန္ဒာလှိုင်) | (ခင်မြင့်သူ) |
| ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

ဒုတိယညွှန်ကြားရေးမှူး

၂။ တင်ပါ

ညွှန်ကြားရေးမှူး

၃။ [illegible]

ညွှန်ကြားရေးမှူးချုပ်

၄။ [illegible]

P.T.O

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၈၁၂၇

🖷 ၀၁- ၆၅၈၁၃၆


စာအမှတ်၊ မရက-၂/ ခ-၀၅၄ /၂၀၁၉ ( ၄၀၄ )

ရက်စွဲ ၂၀၁၉ ခုနှစ် အောက်တိုဘာလ ၃ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး

စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ Range Veterinary Company Limited ၏ ၃-၉-၂၀၁၉ ရက်စွဲပါစာ

၁။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Range Veterinary Company Limited တည်ထောင်ပြီး အမှတ်-၁၅၉၊ မြို့ဝန်ဦးအောင်သူလမ်း၊ လှိုင်သာယာ စက်မှုဇုန်-၂၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်းမြေဧရိယာ ၁.၁၁၇ ဧကတွင် တိရစ္ဆာန်များ၏ ကျန်းမာရေးအထောက်အကူပြု အားဆေးနှင့် ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရည်ညွှန်းပါစာဖြင့် အဆိုပြုတင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၆၁ အရ ကော်မရှင်သည် အဆိုပြုလျှောက်ထားလွှာကို စိစစ်ရာတွင် လိုအပ်ပါက အစိုးရဌာန၊ အဖွဲ့အစည်းများနှင့် ဆွေးနွေးတိုင်ပင်နိုင်သည်ဟု ဖော်ပြ ပါရှိပါသည်။

၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၄၉ အရ အဆိုပြုလွှာအား လက်ခံသည့်နေ့မှ ရက်ပေါင်း ၆၀ အတွင်း ခွင့်ပြုမိန့် ထုတ်ပေးရမည်ဖြစ်၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား ၂၀၁၉ ခုနှစ် အောက်တိုဘာလ ၁၅ ရက်နေ့ နောက်ဆုံးထား၍ ပြန်ကြားပေးနိုင်ရန်ဖြစ်ပါသည်။ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန အနေဖြင့် အချိန်မီ မပြန်ကြားနိုင်ပါက ဖက်စ်၊ ဖုန်းတို့ဖြင့်လည်း အကြောင်းပြန်ကြား ပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

Z:\INV 1\Mway Ku Range.doc

၄။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ဒေါ်ခင်အေးခိုင် (ဖုန်းနံပါတ်- ၀၉၇၆၄၃၅၃၄၄၀) သို့ ဆက်သွယ် ဆောင်ရွက်နိုင်ပါရန် အဆိုပြုလျှောက်ထားလွှာ တစ်စုံအား ပူးတွဲပေးပို့အပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(သန့်စင်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို

ညွန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန

Range Veterinary Company Limited

ရုံးလက်ခံ / မျှောစာတွဲ

အထွေထွေ အရပ်ရပ် - ၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်)

သ-ညွှန်ချုပ်(၁)ဝင်စာ
စာအမှတ် ၁၁၁
ရက်စွဲ 18.9.19
အချိန်

ရက်စွဲ၊ ၂၀၁၉ ခုနှစ် စက်တင်ဘာလ ၁၇ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားလာခြင်းကိစ္စ**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Range Veterinary Company Limited မှ တိရစ္ဆာန် များ၏ ကျန်းမာရေးအထောက်အကူပြု အားဆေးနှင့် ဆေးဝါးအမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန (OSS) မှ သဘောထားမှတ်ချက် ပြန်ကြားလာသည့်အပေါ် ကုမ္ပဏီသို့အကြောင်းပြန်ကြားသည့်စာအား ပြုစုတင်ပြအပ်ပါသည်။

| ရေးသွင်းသူ | စိစစ်သူ(၁) | စိစစ်သူ(၂) |
|---|---|---|
| (အိမ့်ခန့်ခန့်လှိုင်) | (ခင်နန္ဒာလှိုင်) | (စန္ဒာအောင်) |
| အငယ်တန်းစာရေး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

ဒုတိယညွှန်ကြားရေးမှူး

၂။ [illegible]

[illegible]

[illegible]

[illegible]

18/9

[illegible]

၄။

18/9

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၄၆ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၂၅,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၁၂၅,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိမည့် မျိုးကြက်ပေါက်များအား ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပြီး ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | Unit | ပြည်ပတင်ပို့ (၃၀%) | | ပြည်တွင်းရောင်း (၇၀%) | |
|---|---|---|---|---|---|---|
| | | | အရေအတွက် | ဈေးနှုန်း (US$/Unit) | အရေအတွက် | ဈေးနှုန်း (ကျပ်/Unit) |
| (က) | Amoxicillin Water Soluble Powder | Kg | ၃,၀၀၀ | ၁၆.၀၀၀ | ၇,၀၀၀ | ၂၄,၀၀၀ |
| (ခ) | Amoxicillin+ Colistin Water Soluble Powder | Kg | ၁,၅၀၀ | ၁၆.၀၀၀ | ၃,၅၀၀ | ၂၄,၀၀၀ |
| (ဂ) | Colistin Water Soluble Powder | Kg | ၁,၅၀၀ | ၁၆.၀၀၀ | ၃,၅၀၀ | ၂၄,၀၀၀ |
| (ဃ) | Quinocetone Premix | Kg | ၆,၀၀၀ | ၅.၀၀၀ | ၁၄,၀၀၀ | ၇,၅၀၀ |
| (င) | Nosiheptide Premix | Kg | ၆,၀၀၀ | ၈.၀၀၀ | ၁၄,၀၀၀ | ၁၂,၀၀၀ |
| (စ) | Ractopamine Premix | Kg | ၁,၂၀၀ | ၅.၀၀၀ | ၂,၈၀၀ | ၇,၅၀၀ |
| (ဆ) | Tilmicosin Oral Solution | Liter | ၃,၀၀၀ | ၁၈.၀၀၀ | ၇,၀၀၀ | ၂၇,၀၀၀ |
| (ဇ) | Ciprofloxacin Oral Solution | Liter | ၁,၅၀၀ | ၆.၅၀၀ | ၃,၅၀၀ | ၉,၇၅၀ |
| (ဈ) | Toltrazuril Oral Solution | Liter | ၃,၀၀၀ | ၁၂.၀၀၀ | ၇,၀၀၀ | ၁၈,၀၀၀ |
| (ည) | Trimethoprim+ Sulphamethoxazole Oral Solution | Liter | ၁,၅၀၀ | ၁၃.၀၀၀ | ၃,၅၀၀ | ၁၉,၅၀၀ |
| (ဋ) | Enrofloxacin Oral Solution | Liter | ၃,၀၀၀ | ၁၀.၀၀၀ | ၇,၀၀၀ | ၁၅,၀၀၀ |
| (ဌ) | E+ Selenium Oral Solution | Liter | ၆၀၀ | ၁၀.၀၀၀ | ၁,၄၀၀ | ၁၅,၀၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ သက်ဆိုင်ရာဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားထားပါသည်-

(က) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းသည် မွေးမြူရေးကဏ္ဍဖွံ့ဖြိုးတိုးတက်ရေးအတွက် ဆောင်ရွက်ခြင်းဖြစ်ပါသဖြင့်ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြား ထား ပါသည်။ နောက်ဆက်တွဲ (က)